# မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

## အမှုတွဲမှတ်တမ်း

**ကုမ္ပဏီအမည်** - Kim Chain Yue Co., Ltd.

**လုပ်ငန်းအမည်** - တိရစ္ဆာန် အစာ ထုတ်လုပ်ခြင်း လုပ်ငန်း

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁၉-၃-၂၀၂၀ | အမှုတွဲ လက်ခံရရှိ | |
| ၂။ | ၃၁-၃-၂၀၂၀ | သဘောတားမှတ်ချက် တောင်းခံခြင်း (မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန ၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန ၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး) | |
| ၃။ | ၇-၄-၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (စက်မှုကြီးကြပ်) | |
| ၄။ | ၂၁-၄-၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန) | |
| ၅။ | ၁-၆-၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန) | |
| ၆။ | ၁၇-၆-၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (မွန်ပြည်နယ်အစိုးရ အဖွဲ့) | |
| ၇။ | ၅-၈-၂၀၂၀ | ကော်မတီအစည်းအဝေး ကျင်းပခြင်း | |
| ၈။ | ၁၂-၈-၂၀၂၀ | အတည်ပြုမိန့် ကတ်ပြား ထုတ်ပေးခြင်း (အတည်ပြုမိန့် အမှတ် မဝန-၀၀၅ /၂၀၂၀ (MON-005/2020) | |
| ၉။ | ၂၇-၈-၂၀၂၀ | အမှုတွဲအား သက်ဆိုင်ရာ ရုံး (၁၁) နှင့် ကြီးကြပ် သို့ ပေးပို့ခြင်း | |
| | | | |



ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်

ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ မေ လ ၇ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ **လျှောက်ထားသူ၏ -**

(က) အမည် ..........ဒေါ်ရှင်ဝေချင်း..........

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..........၁၃/ကခန(နိုင်)၁၁၁၅၉၀၆..........

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း ..........အမှတ်-1A/၃၊ မြင့်သာ(၁၁) လမ်း၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်..........

၂။ **ရင်းနှီးမြှုပ်နှံသူ၏ -**

(က) အမည် ..........Chen, Yuting..........

(ခ) ကုမ္ပဏီအမည် ..........Kim Chain Yue Co., Ltd..........

(ဂ) လုပ်ငန်းအမျိုးအစား ..........တိရိစ္ဆာန်အစာထုတ်လုပ်ခြင်း..........

..........

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ..........၄(ခ)၊ ၇(ခ)..........

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ..........၂၅,၀၀၀/- + ၅၀,၀၀၀/- = ၇၅,၀၀၀/-

(စာဖြင့်) ကျပ် ..........ခုနစ်သောင်း ငါးထောင် တိတိ..........

(ဂ) ငွေအမျိုးအစား

..........၁၀၀၀၀/-.......... ..........(၇) ရွက်..........

..........၅၀၀၀/-.......... ..........(၁) ရွက်..........

(ရင်းနှီးမြှုပ်နှံမှုဌာနစု)

----၇၅,၀၀၀/----- ကျပ် (----------ခုနစ်သောင်း ငါးထောင်---------- ကျပ် တိတိ)ကို လက်ခံရရှိပါသည်။

ငွေစာရင်းဌာနစု

(မင်းသိန်းဦး)
လက်ထောက်ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်



Form (5-B)

# THE REPUBLIC OF THE UNION OF MYANMAR

## Mon State Investment Committee

## Endorsement

**Endorsement No.** MON – 005/2020 Date 12 August 2020

This endorsement is issued by the Mon State Investment Committee according to the Section 25, Sub-section (d) of the Myanmar Investment Law-

(1) **Name of Investor** MR. CHEN YUTING

(2) **Citizenship** CHINESE

(3) **Residence Address** NO.1A/3, MYIN THAR (11) STREET, SOUTH OKKALAPA TOWNSHIP, YANGON.

(4) **Name and Address of Principle Organization** -

(5) **Place of Incorporation** -

(6) **Type of business** ANIMALS FEED PRODUCTION

(7) **Place(s) of investment Project** HOLDING NO. N/31, KWIN NO. 1162 (KHA), SANDRA KYA KWIN, ASIN VILLAGE TRACT, YE TOWNSHIP.

(8) **Amount of Foreign Capital** US$ 1.174 MILLION

(9) **Period for Foreign Capital to be brought in** -

(10) **Total Amount of Capital (Kyat)** EQUIVALENT IN KYAT OF US$ 1.174 MILLION

(11) **Construction Period** 2 YEARS

(12) **Validity of Endorsement** 28 YEARS

(13) **Form of Investment** WHOLLY FOREIGN OWNED

(14) **Name of Company Incorporated in Myanmar** KIM CHAIN YUE COMPANY LIMITED

(Dr. AYE ZAN)

Chairman






THE REPUBLIC OF THE UNION OF MYANMAR

MON STATE INVESTMENT COMMITTEE

MEE LAUNG PYIN STREET, MANDALAY WARD, MAWLAMYINE

Tel: 057-2023395

Fax:057-2023385

Our ref: MSIC / 1/ FI / 2020 ( 039 )

Date : 12 August 2020

**Subject:** **Decision of the Mon State Investment Committee on the Endorsement for Animals Feed Production under the name of Kim Chain Yue Company Limited**

Reference: Kim Chain Yue Company Limited Letter dated 16th March 2020

1. The Mon State Investment Committee, at its meeting (3/2020) held on 5th August 2020, approved the Endorsement for investment in animals feed production under the name of Kim Chain Yue Company Limited submitted by Mr. Chen Yuting (100%) from People's Republic of China as a wholly foreign owned investment in accordance with the Myanmar Investment Law and Rules.

2. The terms and conditions of the Endorsement are stated in the following paragraphs:

(a) The term of an Endorsed project shall be an initial twenty-eight (28) years commencing from the date of the issuance of the Endorsement by Mon State Investment Committee.

(b) The term of the Lease Agreement for land shall be eight (8) years commencing from the date of signing of the Lease Agreement between U Hla Win and Daw Cho Cho San (Lessors) and Kim Chain Yue Company Limited (Lessee) and can be extendable by mutual aggrement between the Lessors and the Lessee subject to the approval of the Mon State Investment Committee.

(c) The annual rent for the land of 4.52 acres (18291.79 square meters) for the eight (8) years shall be Kyat 15,000,000(Kyat fifteen million only) and the rate of increase in rent shall not be more than 5% of the previous rent for the rest twenty (20) years.

(d) Kim Chain Yue Company Limited, which has obtained this Endorsement to receive benefits relating to the right to use land under Chapter XII and exemptions and reliefs under section 75, 77 and 78 of the Chapter XVIII of Myanmar Investment Law, may submit the application form.

(e) Kim Chain Yue Company Limited shall endeavour to meet the targets for production as the minimum target.

(f) Kim Chain Yue Company Limited shall use its best efforts to achieve a timely realization of the work stated in the Endorsement application.

(g) Kim Chain Yue Company Limited shall obey and respect the responsibilities of investors under section 65 of Myanmar Investment Law and Chapter XX of Myanmar Investment Rules.

(h) Kim Chain Yue Company Limited shall carry out prevention, mitigation and monitoring of significant environmental impacts according to the type of investment activities in accordance with the relevant laws, rules, regulations and procedures.

(i) Kim Chain Yue Company Limited shall have to abide by the Fire Services Department's rules, regulations, directives and instructions. Moreover, fire prevention measures shall have to be undertaken such as water storage tank, fire hooks, sand bags, fire extinguishers and provide training to use the fire fighting equipment and also to appoint fire safety officer.

(j) Kim Chain Yue Company Limited shall submit to the Commission any transfer of share or transfer of business to any person during the

investment period in accordance with section 72 of Myanmar Investment Law and rule 191 of Myanmar Investment Rules.

(k) Kim Chain Yue Company Limited which has benefitted from the Endorsement or exemptions and reliefs shall submit an annual report in the prescribed form to the Commission within three (3) months of the end of the financial year in accordance with rule 196 of Myanmar Investment Rules and shall publish a summary of the report on its website or the Commission's website.

(l) Kim Chain Yue Company Limited must, during the operation period under the endorsement of the Commission, submit its operating report quarterly in the prescribed form in accordance with rule 197 of Myanmar Investment Rules.

3. Kim Chain Yue Company Limited shall carry out in accordance with the stipulations of the relevant Union Ministries, governmental department and governmental organizations to obtain license, permit or registration as per section 65 (d) of the Myanmar Investment Law.

4. Kim Chain Yue Company Limited shall submit five (5) copies of all approvals, licences, permits and similar authorizations relevant to the initial implementation of the investment and the Land Lease Agreement to the Committee.

(Dr. Aye Zan)
Chairman

Kim Chain Yue Company Limited

cc: 1. Office of the Government of the Republic of the Union of Myanmar
2. Ministry of Home Affairs
3. Ministry of Planning, Finance and Industry
4. Ministry of Investment and Foreign Economic Relations
5. Ministry of Agriculture, Livestock and Irrigation

6. Ministry of Natural Resources and Environmental Conservation
7. Ministry of Labour, Immigration and Population
8. Ministry of Commerce
9. Myanmar Investment Commission
10. Office of the Mon State Government
11. Director General, Directorate of Investment and Company Administration
12. Director General, Department of Livestock Breeding and Veterinary
13. Director General, Department of Environmental Conservation
14. Director General, Directorate of Labour
15. Director General, Department of Immigration
16. Director General, Directorate of Industrial Supervision and Inspection
17. Director General, Department of Trade
18. Director General, Customs Department
19. Director General, Internal Revenue Department
20. Director General, National Archives Department




**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၈၅
ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက / ၂ / နင၁ / ၂၀၂၀ (၀၃၃ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇူလိုင် လ ၂၉ ရက်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Kim Chain Yue Company Limited ၏ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ **Kim Chain Yue Co.,Ltd.** မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-N/၃၁၊ ကွင်းအမှတ်-၁၁၆၂ (ခ) ၊ စန္ဒါးကြကွင်း၊ စုစုပေါင်းမြေဧရိယာ (၄.၅၂)ဧကေတွင် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ **Kim Chain Yue Co.,Ltd.** သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်- 123937333 ဖြင့် ၁၆-၁၂-၂၀၁၉ ရက်နေ့တွင်မှတ်ပုံတင်ထားပြီး ဒါရိုက်တာအစုရှင်(၁)ဦးတည်းဖြင့်ဖွဲ့စည်းထားသော နိုင်ငံခြားကုမ္ပဏီဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ **Kim Chain Yue Co.,Ltd.** ၏ ငွေကြေးပိုင်ဆိုင်မှုအထောက် အထားအဖြစ် ၂၃-၁-၂၀၂၀ ရက်နေ့အထိ 2565333.31 ယွမ် (US$ 15.4 million) ခန့် ရှိကြောင်း Beijing ရှိ Chinese Industry Economic Bank ( Mi Yun Branch) ၏ Bank Statement တင်ပြထားပါသည်။

၄။ လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-N/၃၁၊ ကွင်းအမှတ်-၁၁၆၂/ခ၊ စန္ဒါးကြကွင်း၊ စုစုပေါင်း မြေဧရိယာ (၄.၅၂)ဧက အား မြေပိုင်ရှင်ဦးလှဝင်း+ ဒေါ်ချိုချိုစန်း တို့ထံမှ ကနဦး (၈) နှစ် ငှါးရမ်းထားကြောင်း၊ (၁၀) နှစ် (၂) ကြိမ် ထပ်တိုးငှါးရမ်းနိုင်ကြောင်း၊ မြေငှါးရမ်းခမှာတစ်နှစ် သိန်းတစ်ရာ့ငါးဆယ်ဖြစ်ကြောင်းနှင့် လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ရရှိရေး တင်ပြထားကြောင်းစိစစ်တွေ့ရှိရပါသည်။ မြေငှါးစာချုပ်မိတ္တူနှင့် ပုံစံ (၇) မိတ္တူများ ပူးတွဲဖော်ပြထားပါသည်။

၅။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၂၈ )နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလ မှာ (၂ )နှစ် ဖြစ်ပါသည်။

၆။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ USD 1.174 million ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါ သည်-

| | | | |
|---|---|---|---|
| (က) | Cash | - | USD 0.500 million |
| (ခ) | Office equipment | - | USD 0.013 million |
| (ဂ) | Factory's Operation Machinery & Accessories | - | USD 0.395 million |
| (ဃ) | Factory Construction | - | USD 0.236 million |
| ( c) | Truck Vehicle for Buiness | - | USD 0.030 million |
| | စုစုပေါင်း | - | USD 1.174 million |

၇။ လုပ်ငန်းကြောင့် ဒေသခံ ပြည်တွင်းဝန်ထမ်း (၅၀) ဦး နှင့် ပြည်ပဝန်ထမ်း (၇) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် (၈၂၅၀၀၀ိ/-) ဖြစ်ပြီး အနိမ့်ဆုံးလစာသတ်မှတ်ချက် (၂၄၀၀၀၀ိ/-)ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းများ၏ အမြင့်ဆုံး လစာသတ်မှတ်ချက် USD 1200 ဖြစ်ပြီး အနိမ့်ဆုံးလစာ သတ်မှတ်ချက် USD 500 ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ပြည်တွင်း/ပြည်ပဝန်ထမ်းများ ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူကောက်ခံပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်နှင့် ပြည်တွင်းဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၈။ လုပ်ငန်းမှထွက်ရှိသော တိရိစ္ဆာန်အစာများကို ပြည်ပသို့ (၁၀၀%)ရာနှုန်းပြည့်တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (တန်) | ဈေးနှုန်း (USD/တန်) |
|---|---|---|---|
| (က) | ငါးကုန်ကြမ်းသုံး - အစာ | 13800 | 985.510 |
| (ခ) | ပုဇွန်ကုန်ကြမ်းသုံး- အစာ | 6000 | 942.030 |

၉။ လုပ်ငန်းအတွက် တစ်နှစ်လျှပ်စစ်ဓါတ်အား 438000 kwh အသုံးပြုဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ လုပ်ငန်းအတွက် လိုအပ်သော အဆောက်အဦများဆောက်လုပ်ခြင်း၊ လမ်းများဖောက်ခြင်း၊ ဓါတ်အားလိုင်းများသွယ်တန်းခြင်း၊ ရေသန့်ရရှိရေးအတွက်ရေပိုက်များသွယ်တန်းခြင်း နှင့် မီးဘေးကာကွယ်ရေးအတွက် မီးသတ်ရေကန်များတည်ဆောက်ခြင်း၊ အစီစဉ်တွင်းတူးဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံအဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်း သက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၂။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည် - (နောက်ဆက်တွဲ-က)

(၁) တိရိစ္ဆာန်အစာထုတ်လုပ်မည့် စက်ရုံတည်ဆောက်မည့် တည်နေရာသည် သဘာဝဘေးအန္တရာယ်ရှိနိုင်သည့် အခြေအနေမရှိရန်

(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊

(၃) စက်ရုံအား လေဝင်လေထွက်ကောင်းရန်နှင့် စက်ရုံအတွင်းတွင် အမှုန့်စုပ်စက်များ၊ အနံ့စုပ်စက်များ တပ်ဆင်ဆောင်ရွက်ရန်

(၄) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများကို စနစ်တကျသိုလှောင်ထိန်းသိမ်းခြင်း၊ ကုန်ချောထုတ်လုပ်ရာတွင်လည်း ပတ်ဝန်းကျင် အနှောင့်အယှက်မဖြစ်ရန်နှင့် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ရန်၊ အလုပ်သမားများ၏ ကျန်းမာရေး ထိခိုက်မှုမရှိရန်နှင့် ဘေးအန္တရာယ်ကျရောက်မှု မရှိစေရေးစီမံချက်စနစ်တကျ ရေးဆွဲဆောင်ရွက်ရန်

(၅) တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်

(ခ) မွန်ပြည်နယ်မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန က တိရိစ္ဆာန်အစာ ထုတ်ကုန်များအား ပြည်ပသို့ တင်ပို့ရာတွင် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ သဘောထားမှတ်ချက်များနှင့်ကျန်းမာကြောင်းထောက်ခံချက် (Health Certificate) ရယူရမည်ဖြစ်ပါကြောင်းနှင့် တိရိစ္ဆာန်နှင့် တိရိစ္ဆာန်ထွက်ပစ္စည်းများ တင်ပို့ခြင်းဆိုင်ရာ

စည်းမျဉ်း စည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

နောက်ဆက်တွဲ (ခ)

(ဂ) မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနက တိရိစ္ဆာန်အစာထုတ်လုပ်ခြင်း လုပ်ငန်း နှင့်ပတ်သက်ပြီး အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားပြန်ကြားထားပါသည်- နောက်ဆက်တွဲ (ဂ)

(၁) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီရင်ခံစာအား (၆) လအတွင်းတင်ပြဆောင်ရွက်သွားရန်၊

(၂) ကုန်ကြမ်းပစ္စည်းသန့်စင်ရာမှ ထွက်ရှိလာမည့် ရေဆိုးနှင့် လုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်အရည်များကို ပတ်ဝန်းကျင်ထိခိုက်မှုမရှိသောနည်းလမ်းများဖြင့် စွန့်ပစ်ရန်၊

(၃) ဆူညံသံထိန်းချုပ်ရေးကိရိယာများ တပ်ဆင်ရန်၊

(၄) စက်ပစ္စည်းကိရိယာများနှင့် စက်ရုံဝန်းကျင် သန့်ရှင်းရေးစနစ်တကျ ဆောင်ရွက်ထားရှိရန်နှင့် လူသုံးကုန်စွန့်ပစ်ပစ္စည်းများ စနစ်တကျ စွန့်ပစ် ထားရှိရန်၊

(၅) အနံ့ဆိုးလျော့ချနိုင်မည့် ထိန်းချုပ်ကိရိယာများကို တပ်ဆင်ရန်၊

(၆) သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ ထုတ်လုပ်ရန်၊

(၇) စိမ်းလမ်းစိုပြေရေး အစီအစဉ်အနေဖြင့် ဒေသနှင့် ကိုက်ညီသော သစ်ပင်များ စိုက်ပျိုးသွားရန်၊

(၈) လူမှုစီးပွားဖွံ့ဖြိုးမှုလုပ်ငန်းနှင့် ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများတွင် ပူးပေါင်းပါဝင် ဆောင်ရွက်ရန်၊

(၉) မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် မီးသတ်ဆေးဗူးများ၊ မီးသတ်ရေကန် ရေပြည့်ထားရှိရန်နှင့် မီးဘေးအန္တရာယ်ကာကွယ်ရေး စီမံချက်များရေးဆွဲရန်နှင့် ဝန်ထမ်းများအား လက်တွေ့မီးငြိမ်းသတ်မှု လေ့ကျင့်သင်ကြားရေး အစီအစဉ်များအား ဆောင်ရွက်ထားရှိရန်၊

(၁၀) ဒေသခံပြည်သူများအား အသိပေးရှင်းလင်းပွဲများ မကြာခဏ လုပ်ဆောင်သွားရန်၊

(၁၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ အစစ်ဆေးခံနိုင်ရေး ဆောင်ရွက်ထားရှိရန်၊

(၁၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနမှ ပြဋ္ဌာန်းသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဃ) မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး (၁၁.၆.၂၀၂၀) ရက်နေ့တွင်ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၄/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြား ထားပါသည်။ **(နောက်ဆက်တွဲ- ဃ)**

၁၃။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) **Kim Chain Yue Company Limited ၏ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ် /ကန့်သတ် ထားသည့် လုပ်ငန်းများတွင် မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/ အဆောက်အဦအား အသုံးပြုထားမှုမရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့် ပြည်သူလူထုအား ကြီးမားသောသက်ရောက်မှု ဖြစ်ပေါ်နိုင်သည့် လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ USD ၅ သန်း အောက်တွင်ရှိခြင်းများကြောင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့် ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(ဃ) (၃၀) (ISIC 1080) အရဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့် မွန်ပြည်နယ်၊ ရေးမြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇အရ ဇုန်(၂)တွင် ပါဝင်ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ရရှိခံစားနိုင်သောလုပ်ငန်းဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှုကာလအတွင်းလုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများအတွက် အကောက်ခွန်ကင်းလွတ်ခွင့်/ သက်သာခွင့်များ ရရှိခံစားနိုင်သည့် လုပ်ငန်းဖြစ်ပါသည်။

(င) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(စ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

## ဆုံးဖြတ်ရန်အချက်

၁၄။ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် **Kim Chain Yue Company Limited** မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-N/၃၁၊ ကွင်းအမှတ်-၁၁၆၂/ခ၊ စန္ဒါးကြကွင်း၊ စုစုပေါင်း မြေဧရိယာ (၄.၅၂)ဧကတွင် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းအား အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
( လှဝင်းတင့် ၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

အကြောင်းအရာ။ KIM CHAIN YUE Company Limited မှ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Kim Chain Yue Co.,Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Chen Yuting ၊ ဒါရိုက်တာ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N/၃၁)၊ ကွင်းအမှတ် - ၁၁၆၂(ခ)၊ စနွှါးကြီးကွင်း၊ ဧရိယာ (၄.၅၂) ဧက |
| ၃။ | မြေပိုင်ရှင် | - ဦးလှဝင်း နှင့် ဒေါ်ချိုချိုစန်း |
| | မြေအကျယ်အဝန်း | - ၄.၅၂ ဧက |
| | အဆောက်အဦ အရေအတွက် | 1 storey Factory ( 140'x80') steel structure ၁ လုံး |
| | နှစ်စဉ်မြေငှားရမ်းခ | နှစ်စဉ် ၁၅,၀၀၀,၀၀၀ ( သိန်း တစ်ရာ့ငါးဆယ် ) |
| | မြေ/ အဆောက်အဦ ငှားရမ်း / အသုံးပြုခွင့်သက်တမ်း | ၈ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၂၈ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - USD 1.174 million |
| | ထည့်ဝင်သည့်အမျိုးအစား | |
| | (က) Cash | - USD 0.500 million |
| | (ခ) Office equipment | - USD 0.013 million |
| | (ဂ) Factory's Operation Machinery & Accessories | - USD 0.395 million |
| | (ဃ) Factory construction | - USD 0.236 million |
| | (c) Truck Vehicle for Business | USD 0.030 million |
| | စုစုပေါင်း | - USD 1.174 million |

| | | |
|---|---|---|
| ၇။ | ရောင်းချမှုနည်းစနစ် | ပြည်ပ ( 100%) |
| ၈။ | ရောင်းချမှုနှင့် ဈေးနှုန်း | တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (တန်) / ဈေးနှုန်း ( USD / တန် ) |
| | ငါးကုန်ကြမ်းသုံး - အစာ | 13800 / 985.510 |
| | ပုဇွန်ကုန်ကြမ်းသုံး - အစာ | 6000 / 942.030 |
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း / ပြည်ပ<br>ဦးရေ ၅၀ ဦး / ၇ ဦး<br>အမြင့်ဆုံးလစာ ကျပ် ၈၂၅၀၀၀ / USD 1200<br>အနိမ့်ဆုံးလစာ ကျပ် ၂၄၀၀၀၀ / USD 500 |
| ၁၀။ | အခြားတင်ပြချက် | - မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထားရှိမည့်အစီအစဉ်များအား တင်ပြထားပါသည်။<br>- CSR ဆောင်ရွက်မည့်အစီအစဉ်များတင်ပြထားပါသည်။<br>- Kim Chain Yue Co.,Ltd. သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-123937333 ဖြင့် ၁၆-၁၂-၂၀၁၉ ရက်နေ့တွင် မှတ်ပုံတင်ထား မှတ်ပုံတင်ထားပြီး ဒါရိုက်တာအစုရှင်(၁)ဦးတည်းဖြင့်ဖွဲ့စည်းမှတ်ပုံတင်ထားသော ကုမ္ပဏီဖြစ်ပါသည်။<br>- ငွေကြေးပိုင်ဆိုင်မှု အထောက်အထားအဖြစ် (၂၃-၁-၂၀၂၀) ရက်နေ့ထိ 2565333.31 ယွမ် (US$ 15.4 million ခန့်) ရှိကြောင်း Beijing ရှိ Chinese Industry Economic Bank (Mi Yun Branch)၏ Bank Statement တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ အစင်ကျေးရွာ အုပ်စု၊ ဦးပိုင်အမှတ် (N/၃၁)၊ ကွင်းအမှတ် - ၁၁၆၂ (ခ)၊ စန္ဒါးကြကွင်း၊ ဧရိယာ (၄.၅၂)ဧကမှာ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် ရရှိရေး တင်ပြထားကြောင်းတွေ့ရှိရပြီးမြေပိုင်ရှင်ဦးလှဝင်း+ ဒေါ်ချိုချိုစန်းတို့ထံမှ ကနဦး (၈)နှစ် ငှားရမ်းထားပြီး နောက်ထပ် (၁၀)နှစ် (၂ ) ကြိမ် ထပ်တိုးငှားရမ်းနိုင်ကြောင်း တွေ့ရှိရပါသည်။ မြေငှားစာချုပ်မိတ္တူနှင့် ပုံစံ (၇)မိတ္တူများ ပူးတွဲဖော်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - လျှပ်စစ်ဓါတ်အားအနေဖြင့် တစ်နှစ် 438000 kwh အသုံးပြုမည် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 1080 ဖြစ်ပြီး MIC အမိန့်ကြော်ငြာစာအမှတ်၊ ၁၃/၂၀၁၇ အပိုဒ်(၁)(ဃ)(၃၀) အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သော မွန်ပြည်နယ်၊ ရေးမြို့နယ်သည် MIC အမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန်(၂) တွင် ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(ဂ)အရ ဝင်ငွေခွန်ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၇(က) အရ လုပ်ငန်းတည်ဆောက်မှုကာလအတွင်း လုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့်လုပ်ငန်းသုံးပစ္စည်းများအတွက်အကောက်ခွန်ကင်းလွတ်ခွင့်/ သက်သာခွင့်များ ရရှိခံစားနိုင်သည့်လုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

နောက်ဆက်တွဲ (က)

ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၂၀(၁၃၈၉)
ရက်စွဲ ၊၂၀၂၀ပြည့်နှစ်၊ ဧပြီလ ၇ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ်...... ၀၁၉
ရရှိရက်စွဲ...... ၇-၄-၂၀၂၀
ရရှိအချိန်...... ၁၅း၂၀ မိနစ်
လက်ခံသူလက်မှတ်......

သို့

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃၁.၃.၂၀၂၀) ရက်စွဲပါ စာအမှတ်၊ မရက/ ၃/ နင ၁ /၂၀၂၀ (၀၁၁)

၁။ Kim Chain Yue Co.,Ltd သည်မွန်ပြည်နယ်၊ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(N/၃၁)၊ ကွင်းအမှတ် - ၁၁၆၂/ခ၊ စန္ဒါးကြကွင်း၊ စုစုပေါင်းမြေဧရိယာ(၄.၅၂)ဧက တွင် တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှဆောင်ရွက်ရမည့် လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များ ဆောင်ရွက်ရန်လိုပါသည်-

(က) တိရိစ္ဆာန်အစာထုတ်လုပ်မည့် စက်ရုံတည်ဆောက်မည့် တည်နေရာသည်သဘာဝဘေးအန္တရာယ်ရှိနိုင်မည့် အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် ရေးဆွဲထားသော မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များအတိုင်း စက်ရုံရှိဝန်ထမ်းများကို ဓာတ်တိုက်လေ့ကျင့်သွားရန်လိုအပ်မည်ဖြစ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်းကိရိယာများ၊ မီးသတ်ဆေးဗူးအသင့်ထားရှိရန် မီးသတ်ရေကန်တည်ဆောက်ထားသွားရန်နှင့် သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) စက်ရုံအား လေဝင်လေထွက်ကောင်းရန်နှင့် စက်ရုံ၏အတွင်းတွင် အမှုန့်စုပ်စက်များ၊အနံ့စုပ်စက်များ တပ်ဆင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) တိရိစ္ဆာန်အစာထုတ်လုပ်ရာတွင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများကို စနစ်တကျ သိုလှောင်ထိန်းသိမ်းခြင်း၊ ကုန်ချောထုတ်လုပ်ရာတွင်လည်း ပတ်ဝန်းကျင်တွင် နေထိုင်လျက်ရှိသောပြည်သူများ အနှောင့်အယှက်မဖြစ်စေရန်နှင့် ညစ်ညမ်းမှုများ မရှိစေရန်ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါသည်။အလုပ်သမားများ၏ ကျန်းမာရေး ကိုထိခိုက်စေနိုင်မှုမရှိသည့်အပြင် ဘေးအန္တရာယ်ကျရောက်နိုင်မှုလည်းမရှိစေရေး စီမံချက်စနစ်တကျ ရေးဆွဲဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ် ပါသည်။

၃။ သို့ဖြစ်ပါ၍ Kim Chain Yue Co.,Ltd မှ တိရိစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြား အပ်ပါသည်။

တင်ညို
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို-

ရုံးလက်ခံ

မျှောစာတွဲ



စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မွေး မြူ ရေး နှင့် ကု သ ရေး ဦး စီး ဌာ န
မွန် ပြည် နယ် ၊ မော် လ မြိုင် မြို့
စာအမှတ်၊ မက( မွန် ) / တိအစာ /၂၀၂၀(၀၃၁၈)
ရက် စွဲ ၊ ၂၀၂၀ ပြည့် နှစ် ဧပြီ လ ၂၁ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ၁၂၀
ရရှိရက်စွဲ ၂၁-၄-၂၀၂၀
ရရှိအချိန် ၁၀း၀၀ နာရီ
လက်ခံသူလက်မှတ်

သို့

ဥက္ကဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ သဘောထားမှတ်ချက် ပေးပို့ခြင်း
ရည်ညွှန်းချက်။ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၁-၃-၂၀၂၀) ရက်စွဲပါစာအမှတ် မရက/နငခ/၂၀၂၀(၀၁၁)

၁။ Kin Chain Yue Co,Ltd မှ မွန်ပြည်နယ် ရေးမြို့နယ် အစင်ကျေးရွာအုပ်စု ဦးပိုင်အမှတ် ကွင်းအမှတ် N/၃၁၊ ကွင်းအမှတ်- ၁၁၆၂/ခ၊ စန္ဒါးကြိုကွင်း စုစုပေါင်း မြေဧရိယာ (၄.၅၂) ဧက တွင် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြု လျှောက်ထားလာပါကြောင်းနှင့် တိရစ္ဆာန် အစာထုတ်လုပ်ခြင်းနှင့် ပတ်သက်၍ ဥပဒေလုပ်ထုံးလုပ်နည်း သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာပါသည်၊

၂။ မွန်ပြည်နယ် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ရေးမြို့နယ်မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနမှူးအား (၆-၄-၂၀၂၀) ရက်တွင် ကွင်းဆင်းစစ်ဆေးရန် တာဝန်ပေးအပ်ခဲ့ရာ ကွင်းဆင်း စစ်ဆေးတွေ့ရှိချက်အရ-

(က) အဆိုပါအစာထုတ်လုပ်သည့် လုပ်ငန်းသည် ရေးမြို့နယ် အစင်ကျေးရွာအုပ်စု ဦးပိုင်အမှတ် ကွင်းအမှတ် N/၃၁၊ ကွင်းအမှတ်- ၁၁၆၂/ခ၊ စန္ဒါးကြိုကွင်း မြေဧရိယာ (၄.၅၂)ဧကတွင် တည်ဆောက်ထားသည်ကို တွေ့ရပါသည်၊

(ခ) အဆောက်အဦအမျိုးအစားမှာ အလျား၁၃၀ ပေနှင့် အနံ ၃၅ ပေ အမြင့် ၁၅ ပေရှိပြီး တစ်ထပ်၊ သွပ်မိုး၊ အင်္ဂတေခင်း ဖြစ်ပြီး အဆောက်အဦပုံအား ပူးတွဲတင်ပြပါသည်၊

(ဂ) ရေးမြို့နယ်မှ ရေထွက်ပစ္စည်းဖြစ်သော ငါး၊ ပုဇွန်တို့အား ကုန်ကြမ်းအဖြစ်ထားရှိပြီး တိရစ္ဆာန်အစာများကို ဘေးဥပါဒ်မဖြစ်စေရန်အတွက် သတ်မှတ်စံချိန်စံနှုန်းနှင့်အညီ ထုတ်လုပ်ပြီး ထုတ်ကုန်များကို ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်၊

၃။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ အချက်များအပြင် တိရစ္ဆာန်အစာ ထုတ်ကုန်များအား ပြည်ပသို့ တင်ပို့ရာတွင် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ သဘောထားမှတ်ချက်များနှင့် ကျန်းမာကြောင်းထောက်ခံချက် (Health Certificate) ရယူရမည်ဖြစ်ပါကြောင်းနှင့် တိရစ္ဆာန်နှင့် တိရစ္ဆာန်ထွက်ပစ္စည်းများ တင်ပို့ခြင်းဆိုင်ရာ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်။

ဒေါက်တာနီနီမော်
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို-
- ဝန်ကြီး၊ စိုက်ပျိုးမွေးမြူရေးနှင့်ပို့ဆောင်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်
- ရုံးလက်ခံ

ရေးမြို့နယ် အစင်ကျေးရွာ အုပ်စု၊ ဦးပိုင်အမှတ် N/31 ကွင်းအမှတ် ၁၁၆၂/ခ၊
စန္ဒားကြကွင်း မြေဧရိယာ ၄.၅၂ ဧကပေါ်တွင် Kim Chain Yue Co,ltd တိရစ္ဆာန် အစာ
ထုတ်လုပ်ခြင်း လုပ်ငန်း ကွင်းဆင်း မှတ်တမ်း ပုံများ (၆-၄-၂၀၂၀)







နောက်ဆက်တွဲ (ဂ)




ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ် ၊ မော်လမြိုင်မြို့
စာအမှတ်၊ ၁၃၄၆ /အီးအိုင်အေ / ၂၀၂၀
ရက်စွဲ ၊ ၂၀၂၀ပြည့်နှစ် ၊ မေလ၂၈ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ်......၀၃၈......
ရရှိရက်စွဲ......၁-၆-၂၀၂၀......
ရရှိအချိန်......၁၄း၀၀ နာရီ......
လက်ခံသူလက်မှတ်......

သို့
ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်အကြောင်းပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃၀.၃.၂၀၂၀) ရက်စွဲပါစာအမှတ်၊ မရက/၂/နငခ/၂၀၂၀(၀၁၁)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Kim Chain Yue Co., Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-N/၃၁၊ ကွင်းအမှတ်-၁၁၆၂/ခ၊ စန္ဒားကြီးကွင်း၊ စုစုပေါင်းမြေဧရိယာ(၄.၅၂) ဧကပေါ်တွင် ရာနှုန်းပြည့်နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြလာခြင်းအပေါ် ကော်မတီမှ အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပေးနိုင်ပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Kim Chain Yue Co., Ltd မှ အဆိုပြုတင်ပြလာသော ငါး၊ ပုဇွန်ဖြင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ လယ်ယာမြေအခြားနည်း အသုံးပြုခွင့်ရရှိရေး တင်ပြထားကြောင်းတွေ့ရှိရပြီး မြေပိုင်ရှင် ဦးလှဝင်းနှင့် ဒေါ်ချိုချိုစန်းမှ (၈) နှစ်ငှားရမ်းထားကြောင်း၊

(ခ) အဆိုပြုစီမံကိန်းလုပ်ငန်း၏ လုပ်ငန်းစဉ်အဆင့်ဆင့်မှာ ရေးဦးစွာ ငါး၊ ပုဇွန်ကုန်ကြမ်းများကို ခြေမွပြီးနောက် ရရှိလာသောကုန်ကြမ်းများကို Cooker ထဲတွင် ချက်ပြုတ်ပြီး Dryer ထဲတွင် အခြောက်ခံကာ Grinding Machine ဖြင့် လိုအပ်သည့် အရွယ်အစားရရှိသည်အထိ ထပ်မံကြိတ်ခြေကြောင်း၊ ထို့နောက် အအေးခံကာ ထုပ်ပိုးပြီး ရရှိလာသော ထုတ်ကုန်များကို နိုင်ငံခြားသို့ တင်ပို့ရောင်းချသွားမည်ဖြစ်ပါကြောင်း၊

(ဂ) စက်ရုံတွင် လိုအပ်သော အဆောက်အဦများအဖြစ် Factory (Steel Structure Building 140'×75') (၁) လုံးထဲတွင် Machine part room (20'×20') (၁) လုံး၊ office room with decoration (20'×20') (၁) လုံး၊ Staff Rest Room (20'×20') (၁) လုံး၊ Toilet (8'×20') (၁) ခန်း ၊ Security Gate (6'×6') (၂)လုံး၊ Raw Material Area (40'×75') (၁) ခန်း၊ Production Area (60'×60') (၁) ခန်း၊ Finished Goods Leaving Area(40'×80')(၁)ခန်း တည်ဆောက်သွားမည်ဖြစ်ကြောင်းနှင့် တည်ဆောက်မှု ကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ(၁.၁၇၄)မီလီယံဖြစ်ပြီး ရာနှုန်းပြည့်နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြစ်ကြောင်း၊ လိုအပ်သည့်ကုန်ကြမ်းပစ္စည်းများအား ရေးမြို့နယ်နှင့်ပြည်ပမှမှာယူပြီး သဘောတူညီချက်စာချုပ်များ ချုပ်ဆို၍ ဝယ်ယူမည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့်သက်တမ်းမှာ (၂၈)နှစ်ဖြစ်ကြောင်း၊

(င) တစ်နှစ်အတွက် ငါး(ကုန်ကြမ်းသုံးအစာ) ၁၃၈၀၀၀ တန် ထုတ်လုပ်မည်ဖြစ်ပြီး ပုဇွန်(ကုန်ကြမ်းသုံးအစာ) ၆၀၀၀ တန် ထုတ်လုပ်မည်ဖြစ်ကြောင်း၊ ထုတ်လုပ်ရရှိလာမည့် တိရစ္ဆာန်အစာထုတ်ကုန်များကို ပြည်ပသို့ ၁၀၀ ရာခိုင်နှုန်း တင်ပို့ရောင်းချမည်ဖြစ်ကြောင်း၊

(စ) စက်ကိရိယာများရရှိချိန်တွင် တပ်ဆင်ပြီး စမ်းသပ်လည်ပတ်မည်ဖြစ်ကြောင်းနှင့် စိတ်တိုင်းကျဖြစ်လျှင် လျှပ်စစ်ဓာတ်အားကို (၂၄) နာရီအပြည့်ဖြင့် စတင်လည်ပတ်မည်ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းလုပ်ဆောင်၍ ရရှိလာမည့် နှစ်စဉ်အမြတ်ငွေမှ(၂%)ကို CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်း၊

(ဇ) လုပ်ငန်းလုပ်ဆောင်ခြင်းအတွက် တစ်နှစ်လစာငွေ ကျပ်(၄၈)သိန်းအထက် ရရှိသော ဝန်ထမ်းများအတွက်ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများအတိုင်း ပေးဆောင်စေရန် တာဝန်ယူမည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ သက်ဆိုင်ရာဌာနများ၏ လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း CSR ဆောင်ရွက်မည့်အစီအစဉ်၊ မီးဘေးလုံခြုံရေးစီမံချက်၊ ဝန်ထမ်းများသက်သာချောင်ချိရေးစီမံချက် စသည်တို့ကို ပူးတွဲတင်ပြထားကြောင်း၊

(ဈ) နိုင်ငံတော်ဥပဒေမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် အခြေခံလစာထက် မနည်းသော လုပ်ခလစာများအပါအဝင် ကျန်းမာရေးစောင့်ရှောက်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း။

၃။ Kim Chain Yue Co., Ltd မှအဆိုပြုတင်ပြလာသော ငါး၊ ပုဇွန်ဖြင့် တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သုံးသပ်ရပါသည်-

(က) ကုန်ကြမ်းပစ္စည်းနှင့် ယင်းတို့ကို သန့်စင်ရာမှ ထွက်ရှိလာမည့် ရေဆိုးများမှ အနံ့ဆိုးများထွက်ရှိလာနိုင်ကြောင်း၊

(ခ) လုပ်ငန်းဆောင်ရွက်မှုအဆင့်ဆင့်တွင် စက်ပစ္စည်းများမှ ဆူညံသံ၊ တုန်ခါမှုများထွက်ရှိလာနိုင်ကြောင်း၊ ယင်းတို့မှ ထွက်ရှိလာသော အစိုင်အခဲစွန့်ပစ်ပစ္စည်းများကြောင့် လေနှင့် မြေအရည်အသွေးလျော့ကျနိုင်ကြောင်း၊

(ဂ) လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာသော စွန့်ပစ်အရည်များတွင် ဖော့စဖိတ် (Phosphates) နှင့် နိုက်ထရိတ် (Nitrates) များပါဝင်ခြင်းကြောင့် အဆိုပါစွန့်ပစ်အရည်များကို စနစ်တကျ စွန့်ပစ်ခြင်းမရှိပါက ပတ်ဝန်းကျင်ရေထု/မြေထုကိုထိခိုက်စေနိုင်ပြီး မြစ်ထဲသို့စွန့်ပစ်လျှင်လည်း မြစ်ရေ၏ အောက်ဆီဂျင်ပမာဏ လျော့ကျစေနိုင်ကြောင်းနှင့် ရေနေသတ္တဝါများနှင့်မြစ်ထဲရှိ ဂေဟစနစ်ကိုထိခိုက်နိုင်ကြောင်း၊

(ဃ) စက်ရုံအနီးအနားရှိ မြစ်အတွင်းများသို့ စွန့်ပစ်ရေဆိုးများရောက်ရှိမည်ဆိုပါက မြစ်ထဲရှိ ရေနေသတ္တဝါများအပေါ် ဆိုးကျိုးသက်ရောက်မှုရှိနိုင်ကြောင်းနှင့် စိုက်ပျိုးရေးလုပ်ငန်းများကို ထိခိုက်နိုင်ကြောင်း၊

(င) စက်ရုံအနီးအနားရှိ နေထိုင်သူများနှင့် စက်ရုံအလုပ်သမားများ (အထူးသဖြင့် ကလေးသူငယ်များ) သည် လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာသော အနံ့၊ ရေနှင့် စွန့်ပစ်ပစ္စည်းများကြောင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများ၊ ကာလဝမ်းရောဂါများနှင့် အခြားသော ကျန်းမာရေးပြဿနာများ ဖြစ်ပေါ်နိုင်ကြောင်း၊

(စ) စွန့်ပစ်ပစ္စည်းနှင့် အနံ့ဆိုးများကို စနစ်တကျထိန်းချုပ်နိုင်ခြင်း မရှိပါက ပတ်ဝန်းကျင်လေထု/ရေထု/မြေထုကိုထိခိုက်နိုင်ကြောင်း၊

၄။ Kim Chain Yue Co., Ltd မှအဆိုပြုတင်ပြလာသော ငါး၊ပုဇွန်ဖြင့် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားပါသည်-

(က) လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE) အစီရင်ခံစာအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ အောက်ပါအချက်များအတိုင်း (၆) လအတွင်း တင်ပြဆောင်ရွက်သွားရန်-

(ကက) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို ဆောင်ရွက်မည့် အဖွဲ့အစည်း (သို့မဟုတ်) တတိယပုဂ္ဂိုလ်အား ပတ်ဝန်းကျင်ထိခိုက်မှု

ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၃၂)နှင့်အညီ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ရယူရန်၊

(ခခ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE) အစီရင်ခံစာ ရေးသားဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၃၄) နှင့်အညီ အများပြည်သူနှင့် တိုင်ပင်ဆွေးနွေးခြင်းဆိုင်ရာ လုပ်ငန်းစဉ်များအား ဆောင်ရွက်ရန်၊

(ဂဂ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၃၆)နှင့်အညီ အချက်အလက်များ ထည့်သွင်း ရေးဆွဲသွားရန်၊

(ဃဃ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအား တင်ပြရာတွင် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ ပူးတွဲတင်ပြရန်၊ အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများအား အလေးထားဆောင်ရွက်ရန်။

(ခ) ကုန်ကြမ်းပစ္စည်းနှင့်ယင်းတို့ကိုသန့်စင်ရာမှ ထွက်ရှိလာမည့်ရေဆိုးနှင့် လုပ်ငန်းလည်ပတ်ခြင်းအဆင့်ဆင့်မှ ထွက်ရှိလာသောစွန့်ပစ်အရည်များကို ပတ်ဝန်းကျင်ထိခိုက်မှုမရှိသောနည်းလမ်းများနှင့် သန့်စင်ပြီးမှသာ စွန့်ပစ်ရန်၊

(ဂ) လုပ်ငန်းဆောင်ရွက်မှုအဆင့်ဆင့်ရှိ စက်ပစ္စည်းများမှ ဆူညံသံ၊ တုန်ခါမှုများကို လျော့ချနိုင်ရန် ဆူညံသံထိန်းချုပ်ရေးကိရိယာများ တပ်ဆင်ရန်၊

(ဃ) လုပ်ငန်းဆောင်ရွက်မှုအဆင့်ဆင့်ရှိ စက်ပစ္စည်းကိရိယာများနှင့် စက်ရုံဝန်းကျင် သန့်ရှင်းရေးကို စနစ်တကျ ဆောင်ရွက်ထားရှိရန်နှင့် စက်ရုံဝန်ထမ်းများမှ လူသုံးကုန်စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်ထားရှိရန်၊

(င) အနံ့ဆိုးများထွက်ရှိမှုကို ထိန်းချုပ်နိုင်ရန် အနံ့ဆိုးလျော့ချနိုင်မည့် ထိန်းချုပ်ကိရိယာများကို တပ်ဆင် အသုံးပြုရန်၊

(စ) ရရှိလာသည့် တိရစ္ဆာန်အစာထုတ်ကုန်များသည် တိရစ္ဆာန်များအတွက် ဘေးဥပါဒ်မဖြစ်စေရန်အတွက် သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ ထုတ်လုပ်ရန်၊

(ဆ) စိမ်းလန်းစိုပြေရေး အစီအစဉ်အနေဖြင့် စက်ရုံပတ်လည်တွင် အကြီးမြန်သစ်ပင်များ၊ ဒေသနှင့်ကိုက်ညီသော သစ်ပင်များစိုက်ပျိုးသွားရန်၊

(ဇ) စတင်လုပ်ကိုင်ဆောင်ရွက်သည့်အဆင့်မှ လုပ်ငန်းပိတ်သိမ်းပြီးနောက် အဆင့်များအထိ လုပ်ငန်းကြောင့် ထိခိုက်ခံစားရသူများ/ ဒေသခံများအတွက် လူမှုစီးပွားဖွံ့ဖြိုးမှုလုပ်ငန်း(Corporate Social Responsibility - CSR)များ ဆောင်ရွက်ပေးရန်နှင့်ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင် ပူးပေါင်းပါဝင်ဆောင်ရွက်ရန်၊

(ဈ) မီးဘေးအန္တရာယ်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ၊ မီးသတ်ရေကန်များအား စဉ်ဆက်မပြတ် ရေဖြည့်တင်းထားရှိရန်နှင့် မီးဘေးအန္တရာယ်ကာကွယ်ရေး စီမံချက်များရေးဆွဲ၍ မီးသတ်ဦးစီးဌာနနှင့်ပူးပေါင်းကာ ဝန်ထမ်းများအား လက်တွေ့မီးငြိမ်းသတ်မှု လေ့ကျင့်သင်ကြားပေးရေး အစီအစဉ်များအား ဆောင်ရွက်ထားရှိရန်၊

(ည) သက်ဆိုင်ရာ ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားမှတ်ချက်များ ရယူ၍ အလေးထားဆောင်ရွက်သွားရန်၊ စက်ရုံလည်ပတ်ဆောင်ရွက်ခြင်း/ ပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းစေရန် လုပ်ဆောင်ထားခြင်းများနှင့်ပတ်သက်၍ ဒေသခံပြည်သူများအား အသိပေးရှင်းလင်းပွဲများ မကြာခဏလုပ်ဆောင်သွားရန်၊

(ဋ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ အခါအားလျော်စွာစစ်ဆေးမှုများ အစစ်ဆေးခံနိုင်ရေး ဆောင်ရွက်ထားရှိရန်၊

(ဌ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(အောင်အောင်လေး)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နေပြည်တော်

မိတ္တူကို-

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်အစိုးရအဖွဲ့

ညွှန်ကြားရေးမှူး(ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းချုပ်ရေးဌာန)၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီး

ဌာန၊ နေပြည်တော်

√လက်ထောက်ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပြည်နယ်အစိုးရအဖွဲ့
# မွန်ပြည်နယ်

စာအမှတ်၊ ၂၀၀/ ၄ - ၃ / အဖရ(မွန်)(၀၂၃၇)
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ မွန်လ၊ မြေကန်ရက်ရုံး

(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ... ၀၄၄
ရရှိရက်စွဲ ... ၁၇-၆-၂၀၂၀
ရရှိအချိန် ... ၁၁း၄၀ နာရီ
လက်ခံသူလက်မှတ်

သို့

အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
(ပြည်နယ်ဦးစီးမှူး၊ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ ယင်း၏ (၃၁-၃-၂၀၂၀)ရက်စွဲပါစာအမှတ်၊ မရက/၂/နငခ/၂၀၂၀(၀၁၁)

Kim Chain Yue Co.,Ltd မှ ရေးမြို့နယ်၊ အစင်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-N/၃၁၊ ကွင်းအမှတ်-၁၁၆၂/ခ၊ စန္ဒားကြကွင်း၊ စုစုပေါင်းမြေရိယာ(၄.၅၂)ကေတွင် တိရစ္ဆာန်အစာထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် သက်ဆိုင်ရာဌာန၏ဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီသဘောထားမှတ်ချက်အားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာခြင်းနှင့်ပတ်သက်၍ မော်လမြိုင်ခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ တိရစ္ဆာန်နှင့်တိရစ္ဆာန်ထွက်ပစ္စည်းများ တင်ပို့ခြင်းဆိုင်ရာ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းနှင့် သစ်တောဦးစီးဌာနမှ အဆိုပါမြေနေရာသည် သစ်တောဦးစီးဌာန၏ စီမံခန့်ခွဲခွင့်ရှိသည့်သစ်တောမြေတွင် ကျူးရောက်ခြင်းမရှိပါသဖြင့် သဘောထားမှတ်ချက်ပြုရန်မရှိကြောင်း တင်ပြလာခြင်းအပေါ် (၁၁-၆-၂၀၂၀)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၄/၂၀၂၀)၏ ဆုံးဖြတ်ချက်အပိုဒ်(၃၈)အရ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး၊ မွန်ပြည်နယ်အစိုးရအဖွဲ့
လှည့်လည်စာတွဲ
ရုံးလက်ခံ

2 2020 may 26

# Proposal of the investor
# For Making Investment
# In The Republic of the Union of Myanmar
# "KIM CHAIN YUE COMPANY LIMITED"




ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်

ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်                ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ မေ လ ၇ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ လျှောက်ထားသူ၏ -

(က) အမည် ..........ဒေါ်ရှင်ဝေချင်း..........

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ......၁၃/ကခန(နိုင်)၁၁၃၅၉၀၆..

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း ........အမှတ်-1A/၃၊ မြင်သာ(၁၁)လမ်း၊..........

..........တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်..........

၂။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ..........Chen, Yuting..........

(ခ) ကုမ္ပဏီအမည် ..........Kim Chain Yue Co., Ltd...........

(ဂ) လုပ်ငန်းအမျိုးအစား .....တိရစ္ဆာန်အစာထုတ်လုပ်ခြင်း..........

..........

..........

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ..........၄(ခ)၊ ၇(ခ)..........

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် .........၂၅,၀၀၀/-.....+.....၅၀,၀၀၀/-.....=.....၇၅,၀၀၀/-

(စာဖြင့်) ကျပ် .........ခုနစ်သောင်းငါးထောင် တိတိ..........

(ဂ) ငွေအမျိုးအစား

......၁၀၀၀၀/-..........    ...(၇) ရွက်..

......၅၀၀၀/-..........    ...(၁) ရွက်..

(ရင်းနှီးမြှုပ်နှံမှုဌာနစု)

---၇၅,၀၀၀/----- ကျပ် (---------ခုနစ်သောင်းငါးထောင်--------------) ကျပ် တိတိ)ကို လက်ခံရရှိပါသည်။

ငွေစာရင်းဌာနစု

(မင်းသိန်းဦး)

လက်ထောက်ညွှန်ကြားရေးမှူး

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်။

